# ကန့်သတ်

ကုမ္ပဏီအမည် - Myanmar New Hope Agrotechnique Company Limited

လုပ်ငန်း - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မျိုးကြက်မွေးမြူထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက် ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၁၉-၉-၂၀၁၆ | | |
| ၂ | အဆိုပြုချက်အား ကုမ္ပဏီဌာနခွဲသို့ ပေးပို့အကြောင်းကြားခြင်း | ၂၆-၉-၂၀၁၆ | | |
| ၃ | သဘောထားမှတ်ချက်တောင်းခံခြင်း | | | |
| | (က) ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့ | ၁၈-၁၀-၂၀၁၆ | ၁၉-၁၂-၂၀၁၆ | |
| | (ခ) စိုက်ပျိုးရေး၊မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန | ၁၈-၁၀-၂၀၁၆ | ၁၁-၁၁-၂၀၁၆ | |
| | (ဂ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန | ၁၈-၁၀-၂၀၁၆ | ၁၅-၁၁-၂၀၁၆ | |
| ၄ | PAT တင်ပြခြင်း (၃၆/၂၀၁၆) | ၂၆-၉-၂၀၁၆ | | |
| ၅ | PAT လက်ခံကြောင်းပြန်ကြားခြင်း | ၂၆-၉-၂၀၁၆ | | |
| ၆ | PATဆုံးဖြတ်ချက်အရ လိုအပ်ချက်များအကြောင်းကြားခြင်း | ၁၀-၁၀-၂၀၁၆ | | |
| ၇ | မြေအသုံးပြုခွင့်တင်ပြခြင်း | | | |
| | (က) ကော်မရှင် အစည်းအဝေး (၂၀/၂၀၁၆) သို့ တင်ပြခြင်း | ၂၈-၁၁-၂၀၁၆ | | |
| | (ခ) စီးပွားရေးရာကော်မတီ အစည်းအဝေးသို့ တင်ပြခြင်း | | | ဆောင်ရွက်ဆဲ |
| | (ဂ) ပြည်ထောင်စုအစိုးရအဖွဲ့ သို့ တင်ပြခြင်း | | | ဆောင်ရွက်ဆဲ |
| ၈ | ကုမ္ပဏီမှ အဆိုပြုချက် အစုံ(၁၀) ပေးပို့ခြင်း | | | |
| ၉ | ကော်မရှင်အစည်းအဝေးသို့ တင်ပြရန်ပြုစုခြင်း | | | |
| | စုစုပေါင်းကြာမြင့်ရက် | ၉၀ ရက် | | |

| | |
|---|---|
| ကုမ္ပဏီအမည် | Myanmar New Hope Agrotechnique Company Limite |
| အဖွဲ့အစည်းပုံသဏ္ဍာန် | ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | မျိုးကြက်မွေးမြူ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း |
| တည်နေရာ | ပဲခူးတိုင်းဒေသကြီး၊ ပဲခူးမြို့နယ်၊ ဘူးလယ်အင်းကျေးရွာ၊ ကွင်းအမှတ်-(၁၁၇၆/နဂုတ်ကြီးကွင်း)၊ ဦးပိုင်အမှတ်-(၃၈) |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | အမေရိကန်ဒေါ်လာ ၆.၁၃ သန်း |
| ရောင်းချမည့်စနစ် | ၁၀၀% ပြည်တွင်းရောင်း |
| လုပ်ငန်းသက်တမ်း | ကနဦး ၅၀ နှစ် |
| အရင်းကြေကာလ | ၈ နှစ် ၁၀ လ |
| IRR | ၂၃.၃၆ % |

အထက်ပါလုပ်ငန်း ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်။

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit(ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံဝန်ထမ်းလစာ | ၂.၁၆၀ | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၀.၆၆၅ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၁၄၅.၁၃၈ | |
| ၄ | ဝင်ငွေခွန် | ၅၆၈.၇၂၅ | ၃၃၄၁.၂၆၂ |
| ၅ | ရေ၊ လျှပ်စစ်မီးသုံးစွဲခ | | ၇၅၄.၉၄၂ |
| ၆ | လုပ်ခလစာအပေါ် ဝင်ငွေခွန် | | တစ်နှစ်ဝင်ငွေ ကျပ်သိန်း လေးဆယ့် ရှစ်သိန်း ထက်ကျော်ပါက အခွန်ပေးရမည့် ဝန်ထမ်း(၁၁)ဦး |
| ၇ | CSR (၂%) | | ၄၇၂.၃၁၇ |
| ၈ | အလုပ်အကိုင် အခွင့်အလမ်း | | ပြည်တွင်း ၁၄၆ ဦး<br>ပြည်ပ ၁၁ ဦး<br>ပြည်တွင်းလုပ်သား (၁၄၆) ဦး အလုပ်အကိုင် ရရှိမည်ဖြစ်၍ ဒေသ အလုပ်အကိုင် အခွင့် အလမ်း နှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကို အထောက် အကူ ပြုစေပါသည်။ |
| | | ၇၁၆.၀၂၃ | ၄၅၆၉.၁၈၆ |
| | Cost & Benefit | ၁ : ၆ | |

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar New Hope Agrotechnique Company Limited မှ မျိုးကြက်မွေးမြူထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

| | | | | |
|---|---|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - Myanmar New Hope Agrotechnique Company Limited<br>- Mr.Gou Huayin | | |
| | အဖွဲ့အစည်းပုံသဏ္ဌာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု(နိုင်ငံခြား ၉၅%၊မြန်မာ ၅%)<br>(၁) New Hope Singapore Pte.Ltd မှ ၉၅ % (စင်ကာပူ)<br>(၂) ဒေါ်နန်းယဉ် မှ ၂.၅ % (မြန်မာ)<br>(၃) ဦးကော်တောင် (ခ) ဦးသက်နိုင်စိုး မှ ၂.၅ % (မြန်မာ) | | |
| | လုပ်ငန်းအမျိုးအစား | - မျိုးကြက်မွေးမြူ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း | | |
| ၂။ | တည်နေရာ | - ပဲခူးတိုင်းဒေသကြီး၊ ပဲခူးမြို့နယ်၊ ဘုားလယ်အင်းကျေးရွာ၊ ကွင်းအမှတ်-(၁၁၇၆၊ နဂုတ်ကြီးကွင်း)၊ ဦးပိုင်အမှတ်-(၃၈) | | |
| | မြေပိုင်ရှင် | - ဦးရဲမင်းထွန်း | | |
| | မြေအကျယ်အဝန်း | - စုစုပေါင်း ၄၀.၀၂ ဧက၊ (၁၆၁,၉၅၅.၃၃၇၂ စတုရန်းမီတာ) | | |
| ၃။ | မြေနှင့်အဆောက်အဦးငှားရမ်းခ | - တစ်နှစ်လျှင် မြေငှားရမ်းခ ကျပ် ၈၄.၀၀သန်း<br>(တစ်နှစ် တစ်စတုရန်းမီတာလျှင် ၅၁၈.၆၆ ကျပ်နှုန်း) | | |
| | တည်ဆောက်ရေးကာလ | - ၁ နှစ် | | |
| ၄။ | လုပ်ငန်းသက်တမ်း | - ကနဦး ၅၀ နှစ် | | |
| ၅။ | စုစုပေါင်းမတည်ငွေရင်း | - အမေရိကန်ဒေါ်လာ ၆.၁၃ သန်း | | |
| | ထည့်ဝင်သည့်အမျိုးအစား | **ပြည်တွင်း (US$ သန်း)** | **ပြည်ပ (US$ သန်း)** | **စုစုပေါင်း (US$ သန်း)** |
| | ငွေသား | ၀.၃၀ | ၀.၄၃ | ၀.၇၃ |
| | စက်နှင့်စက်ပစ္စည်း | | ၂.၄၈ | ၂.၄၈ |
| | အဆောက်အဦ | | ၁.၅၃ | ၁.၅၃ |
| | အဆောက်အဦသုံးပစ္စည်း | | ၁.၃၉ | ၁.၃၉ |
| | **စုစုပေါင်း** | ၀.၃၀ | ၅.၈၃ | ၆.၁၃ |

| | | |
|---|---|---|
| ၆။ | ဝန်ထမ်းအင်အား | - ၁၅၇ ဦး |
| | ပြည်တွင်း | - ၁၄၆ ဦး (ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာ ၁၆၀,၀၀၀ ကျပ် နှင့် အမြင့်ဆုံးလစာ ၃၀၀,၀၀၀ ကျပ်) |
| | ပြည်ပ | - ၁၁ ဦး (ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာ US$ ၄၀၀ နှင့် အမြင့်ဆုံးလစာUS$ ၇၀၀) |
| ၇။ | ရောင်းချမည့်စနစ် | - ၁၀၀% ပြည်တွင်းရောင်း |
| | နှစ်စဉ်ထုတ်လုပ်မှု ပုံမှန်နှစ် (၆)နှစ်မြောက် (၁၀၀% ပြည်တွင်းရောင်း) | **စဉ် ပစ္စည်းအမျိုးအစား အရေအတွက် ရောင်းချမည့်ဈေးနှုန်း (ကျပ် /PCS/KG)**<br>(၁) Hatching Eggs (PCS) ၃၆,၀၀၀,၀၀၀ ၃၇၀<br>(၂) Table Egg (PCS) ၃,၆၀၀,၀၀၀ ၁၁၀<br>(၃) Chicken (KG) ၃၆၀,၀၀၀ ၂,၅၀၀ |
| ၈။ | ကုမ္ပဏီ၏ဝင်ငွေ(၆ နှစ်မြောက်) | - အမေရိကန်ဒေါ်လာ ၂.၂၅ သန်း |
| | ကုမ္ပဏီ၏အသုံးစရိတ် | - အမေရိကန်ဒေါ်လာ ၁.၈၇ သန်း |
| | ကုမ္ပဏီ၏အသားတင်အမြတ် (၆နှစ် ) | - အမေရိကန်ဒေါ်လာ ၀.၃၈ သန်း |
| ၉။ | နိုင်ငံတော်မှရရှိမည့် အကျိုးအမြတ် | |
| | ဝင်ငွေခွန် | - အမေရိကန်ဒေါ်လာ ၀.၁၃ သန်း |
| | အရင်းကြေကာလ | - ၈ နှစ် ၁၀ လ |
| | အရင်းအနှီးအပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | - ၂၃.၃၆ % |
| ၁၀။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်) | - ၁,၀၀၀,၀၀၀ kWh |
| ၁၁။ | အခြားတင်ပြချက် | - Myanmar New Hope Agrotechnique Company Limited ၏ MOA, AOA (မူကြမ်း) များ တင်ပြထားပါသည်။<br>- New Hope Singapore Pte. Ltd. ၏စင်ကာပူနိုင်ငံတွင် ကုမ္ပဏီမှတ်ပုံတင် အထောက်အထားများ တင်ပြထားပါသည်။<br>- ဒါရိုက်တာအဖွဲ့ဝင်များ၏ မှတ်ပုံတင်မိတ္တူနှင့်နိုင်ငံကူးလက်မှတ် မိတ္တူများ တင်ပြထားပါသည်။ |

| | | |
|---|---|---|
| | | - မြေပိုင်ရှင်ဦးရဲမင်းထွန်းနှင့်မြေငှားသူ Myanmar New Hope Agrotechnique Company Limited တို့ ချုပ်ဆိုမည့် မြေငှား စာချုပ် (မူကြမ်း)။<br>- ဒေါ်နန်းယဉ်၊ ဦးကော်တောင်(ခ) ဦးသက်နိုင်စိုး နှင့် New Hope Singapore Pte.Ltd တို့ချုပ်ဆိုမည့် ဖက်စပ်စာချုပ် (မူကြမ်း)၊<br>- မြေပိုင်ရှင် ဦးရဲမင်းထွန်း အမည်ဖြင့် ရရှိထားသော မြေစာရင်း ပုံစံ-၁၀၅၊<br>- စင်ကာပူနိုင်ငံရှိ ANZ Bank တွင် New Hope Singapore Pte. Ltd အမည်ဖြင့် ၃၀-၃-၂၀၁၆ ရက်နေ့တွင် US$ ၂,၉၁၉,၈၁၅.၈၆ ရှိကြောင်း ငွေကြေးအထောက်အထား တင်ပြထားပါသည်။<br>- မြန်မာနိုင်ငံရှိ ကမ္ဘောဇဘဏ်တွင် ဒေါ်နန်းယဉ်၊ ဦးသက်နိုင်စိုး အမည်ဖြင့် ၁-၈-၂၀၁၆ ရက်နေ့တွင် မြန်မာကျပ်ငွေ ၃၉,၉၉၄,၅၀၂.၉၈ ရှိကြောင်းနှင့် ဦးသက်နိုင်စိုး အမည်ဖြင့် ၁-၈-၂၀၁၆ ရက်နေ့တွင် မြန်မာကျပ်ငွေ ၅၀၀,၀၀၀ ရှိကြောင်း ငွေကြေးအထောက်အထားများ တင်ပြထား ပါသည်။<br>- စက်ရုံ၏ တည်နေရာပြမြေပုံနှင့် Layout Plan များ၊ ထုတ်လုပ် မည့်ကုန်ပစ္စည်း နမူနာဓာတ်ပုံများနှင့် လုပ်ငန်းဆောင်ရွက်မှု အဆင့်များကို တင်ပြထားပါသည်။<br>- မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်၊ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေးစီမံချက်၊ ပတ်ဝန်းကျင်ထိန်းသိမ်းစောင့်ရှောက်မည်ဖြစ်ကြောင်း ကတိဝန်ခံချက်၊ အလုပ်သမားများ လစာအပေါ်ဝင်ငွေခွန် ပေးဆောင်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုစာ၊ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ လျှောက်ထားချက်နှင့် CSR Project တို့ကို တင်ပြထားပါသည်။ |

| | | |
|---|---|---|
| ၁၂။ | စိစစ်တင်ပြချက် | - ရင်းနှီးမြှုပ်နှံသူ New Hope Singapore Pte.Ltd သည် မြန်မာ နိုင်ငံတွင် Myanmar New Hope Farms Company Limited အမည်ဖြင့် မြေကွက်အမှတ်-(၃၈) ၊ ကွင်းအမှတ်-(၁၁၇၆/ နဂုတ်ကြီးကွင်း)၊ ဘူးလယ်အင်းကျေးရွာ၊ ပဲခူးမြို့နယ်၊ ပဲခူးတိုင်းဒေသကြီး တွင် မျိုးကြက်မွေးမြူ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို ဆောင်ရွက်ရန် ၂၀၁၆ခုနှစ် စက်တင်ဘာလ ၂၄ ရက်နေ့တွင် ကျင်းပသော အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ (၃၆/၂၀၁၆) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီး ဖြစ်ပါသည်။<br>- ငွေလဲလှယ်နှုန်း အနေဖြင့် အမေရိကန် တစ်ဒေါ်လာလျှင် ကျပ် ၁,၁၇၀ ဖြင့် ဖော်ပြထားပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ မရက-၂/ န-၁၅၅/၂၀၁၆( ၉၄၂ )

ရက်စွဲ ၊ ၂၀၁၆ ခုနှစ် ဒီဇင်ဘာလ ၂၃ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**

**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar New Hope Agrotechnique Company Limited မှ မျိုးကြက်မွေးမြူ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

၁။ စင်္ကာပူနိုင်ငံ New Hope Singapore Pte.,Ltd မှ ၉၅ %၊ မြန်မာနိုင်ငံ ဒေါ်နန်းယဉ် မှ ၂.၅ %၊ ဦးကော်တောင်(ခ) ဦးသက်နိုင်စိုး မှ ၂.၅ % အစုရှယ်ယာများ ထည့်ဝင်၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Myanmar New Hope Agrotechnique Company Limited တည်ထောင်ကာ ပဲခူးတိုင်းဒေသကြီး၊ ပဲခူးမြို့နယ်၊ ဘုးလယ်အင်းကျေးရွာ၊ ကွင်းအမှတ်-(၁၁၇၆/နဂုတ်ကြီးကွင်း)၊ ဦးပိုင်အမှတ်-(၃၈) ရှိ စုစုပေါင်း ၄၀.၀၂ ဧက၊ (၁၆၁,၉၅၅.၃၃၇၂ စတုရန်းမီတာ) ငှားရမ်းကာ မျိုးကြက်မွေးမြူထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြလာပါသည်။

၂။ မြေပိုင်ရှင် ဦးရဲမင်းထွန်းနှင့် မြေငှားသူ Myanmar New Hope Agrotechnique Company Limited တို့ ချုပ်ဆိုထားသော မြေငှားစာချုပ် (မူကြမ်း) အား တင်ပြထားပါသည်။ ဒေါ်နန်းယဉ်၊ ဦးကော်တောင်(ခ) ဦးသက်နိုင်စိုး နှင့် New Hope Singapore Pte.Ltd တို့ ချုပ်ဆိုမည့် ဖက်စပ်စာချုပ် (မူကြမ်း) အား တင်ပြထားပါသည်။

၃။ မြေငှားသက်တမ်း မှာ ကနဦး ၃၀ နှစ် ဖြစ်ပြီး သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ် ဖြစ်ပါသည်။ မြေအကျယ်အဝန်းမှာ စုစုပေါင်း ၄၀.၀၂ဧက (၁၆၁,၉၅၅.၃၃၇၂ စတုရန်းမီတာ) ဖြစ်ပြီး တစ်စတုရန်းမီတာလျှင် ၅၁၈.၆၆ ကျပ်နှုန်း) ဖြင့် တစ်နှစ်လျှင် မြေငှားရမ်းခ ကျပ် ၈၄.၀၀ သန်း ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ကနဦး ၅၀ နှစ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၁ နှစ် ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းမှာ အမေရိကန်ဒေါ်လာ ၆.၁၃ သန်း ဖြစ်၍ အောက်ပါအတိုင်း ထည့်ဝင်ထားပါသည်-

| | | ပြည်တွင်း (US$ သန်း) | ပြည်ပ (US$ သန်း) | စုစုပေါင်း (US$ သန်း) |
|---|---|---|---|---|
| (က) | ငွေသား | ၀.၃၀ | ၀.၄၃ | ၀.၇၃ |
| (ခ) | စက်နှင့်စက်ပစ္စည်း | | ၂.၄၈ | ၂.၄၈ |
| (ဂ) | အဆောက်အဦ | | ၁.၅၃ | ၁.၅၃ |
| (ဃ) | အဆောက်အဦသုံးပစ္စည်း | | ၁.၃၉ | ၁.၃၉ |
| | **စုစုပေါင်း** | **၀.၃၀** | **၅.၈၃** | **၆.၁၃** |

ငွေလဲလှယ်နှုန်းအနေဖြင့် အမေရိကန် တစ်ဒေါ်လာလျှင် ကျပ် ၁၁၇၀ ဖြင့် ဖော်ပြထားပါသည်။

၆။ လုပ်ငန်းဆောင်ရွက်ရန် စုစုပေါင်းဝန်ထမ်းဦးရေ ၁၅၇ ဦး ခန့်ထားမည် ဖြစ်ပြီး ပြည်တွင်းဝန်ထမ်းဦးရေ ၁၄၆ ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာ ၁၆၀,၀၀၀ ကျပ်နှင့် အမြင့်ဆုံးလစာ ၃၀၀,၀၀၀ ကျပ် ဖြစ်ပါသည်။ ပြည်ပဝန်ထမ်း ၁၁ ဦး ခန့်ထားမည် ဖြစ်ပြီး ပြည်ပဝန်ထမ်း တစ်ဦး၏ အနိမ့်ဆုံးလစာ US$ ၄၅၀ နှင့် အမြင့်ဆုံးလစာ US$ ၉၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိလာသည့် ကုန်ပစ္စည်းများအား ပြည်တွင်းတွင် ၁၀၀% ရောင်းချမည်ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်း၏ ပုံမှန်နှစ်(ဆဋ္ဌမမြောက်နှစ်)ရှိ ပြည်တွင်းထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | ပစ္စည်းအမျိုးအစား | ရေတွက်ပုံ | အရေအတွက် | ရောင်းချမည့် ဈေးနှုန်း (ကျပ် / PCS/ KG) |
|---|---|---|---|---|
| (က) | Hatching Eggs | (PCS) | ၃၆,၀၀၀,၀၀၀ | ၃၇၀ |
| (ခ) | Table Egg | (PCS) | ၃,၆၀၀,၀၀၀ | ၁၁၀ |
| (ဂ) | Chicken | (KG) | ၃၆၀,၀၀၀ | ၂,၅၀၀ |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်) တွင် ကုမ္ပဏီမှ ရရှိမည့် အကျိုး အမြတ်မှာ အောက်ပါ အတိုင်းဖြစ်ပါသည်-

**အမေရိကန်ဒေါ်လာ (သန်း)**

| | | |
|---|---|---|
| (က) | ဝင်ငွေ | ၂.၂၅ |
| (ခ) | အသုံးစရိတ် | ၁.၈၇ |
| (ဂ) | အသားတင်အမြတ် | ၀.၃၈ |

၉။ ဤလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှဆဋ္ဌမမြောက်နှစ်တွင်ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေ အနေဖြင့် ဝင်ငွေခွန်မှာ အမေရိကန်ဒေါ်လာ ၀.၁၃ သန်းဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ ၈ နှစ် ၁၀ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း(IRR) မှာ ၂၃.၃၆ % ဖြစ်ပါသည်။

၁၀။ အဆိုပြုလုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြား ထားပါသည်-

(က) **ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့** မှ အဆိုပါရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ် ဆောင်ရွက်မှုအား ကန့်ကွက်ရန်မရှိပါကြောင်းသဘောထားပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-က**

(ခ) **စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန** မှ မျိုးကြက်မွေးမြူ ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်းသည် ပြည်တွင်းအစားအစာဖူလုံရေးနှင့် မွေးမြူရေး ကဏ္ဍ ဖွံ့ဖြိုးတိုးတက်ရေးအတွက် အထောက်အကူပြုလုပ်ငန်းဖြစ်ပါသဖြင့် အဆိုပြု လုပ်ငန်းအား ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-ခ**

(ဂ) **ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီးဌာန** မှ အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင် လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်း ဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြီးလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာ တွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာအကျိုးပြုလုပ်ငန်းများ တာဝန်ခံ ဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက် အသားတင်အမြတ်ငွေ၏ ၂% အား အသုံးပြုခြင်း အပါအဝင် ကတိကဝတ်များအား လိုက်နာ အကောင်အထည်ဖော်

ဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ လုပ်ငန်းများ ဆောင်ရွက် မှုကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေး မထိခိုက်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေရေး တို့အတွက် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) ကို ဆောင်ရွက်ပြီး ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ အစီရင်ခံစာ ရေးဆွဲတင်ပြရန် လိုအပ်ပါကြောင်း၊ လေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေး ထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP) အား ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန် လိုအပ်ပါကြောင်း သဘောထား ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-ဂ**

၁၁။ ငွေရေးကြေးရေး အထောက်အထားအဖြစ် စင်ကာပူနိုင်ငံရှိ ANZ Bank တွင် New Hope Singapore Pte.Ltd အမည်ဖြင့် ၃၁-၃-၂၀၁၆ ရက်နေ့တွင် US$ ၂,၉၁၉,၈၁၅.၈၆ ရှိကြောင်း ငွေကြေးအထောက်အထား တင်ပြထားပြီး မြန်မာနိုင်ငံရှိ ကမ္ဘောဇဘဏ်တွင် ဒေါ်နန်းယဉ်၊ ဦးသက်နိုင်စိုး အမည်ဖြင့် ၁-၈-၂၀၁၆ ရက်နေ့တွင် မြန်မာကျပ်ငွေ ၃၉,၉၄၄,၅၀၂.၉၀ ရှိကြောင်းနှင့် ဦးသက်နိုင်စိုး အမည်ဖြင့် ၁-၈-၂၀၁၆ ရက်နေ့ တွင် မြန်မာကျပ်ငွေ ၅၀၀,၀၀၀ ရှိကြောင်း ငွေကြေးအထောက်အထား တင်ပြထားပါသည်။

၁၂။ Myanmar New Hope Agrotechnique Company Limited မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်၊ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေးစီမံချက်၊ ပတ်ဝန်းကျင်ထိန်းသိမ်းစောင့်ရှောက်မည် ဖြစ်ကြောင်း ကတိဝန်ခံချက်၊ အလုပ်သမားများလစာအပေါ် ဝင်ငွေခွန်ပေးဆောင်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုစာနှင့် CSR Project တို့ကိုတင်ပြထားပါသည်။

၁၃။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေပါ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် တင်ပြထားပါသည်။

၁၄။ အဆိုပါလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ၂၀၁၆ ခုနှစ် မတ်လ ၂၁ ရက် နေ့ရက်စွဲဖြင့် ထုတ်ပြန်ထားသော အမိန့်ကြော်ငြာစာအမှတ် ၂၆/၂၀၁၆ ၏ စီးပွားရေး လုပ်ငန်း အမျိုးအစားများ ပြင်ဆင်သတ်မှတ်ခြင်းတွင် ခွင့်မပြုသည့်လုပ်ငန်း၊ ဖက်စပ်စနစ်ဖြင့်သာ ဆောင်ရွက် ရမည့်လုပ်ငန်း၊ ကန့်သတ်ချက်တစ်ရပ်ရပ်ကို လိုက်နာဆောင်ရွက်ရမည့် လုပ်ငန်းစာရင်းတွင် မပါဝင် သဖြင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုနိုင်သော လုပ်ငန်းအမျိုးအစား ဖြစ်ပါသည်။

၁၅။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၆ ခုနှစ် စက်တင်ဘာလ ၂၄ ရက်နေ့တွင် ကျင်းပ ပြုလုပ်သည့် ၃၆/၂၀၁၆ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

၁၆။ **စိစစ်တင်ပြချက်**

(က) ရင်းနှီးမြှုပ်နှံသူ New Hope Singapore Pte Ltd. သည် မြန်မာနိုင်ငံတွင် Myanmar New Hope Farms Company Limited အမည်ဖြင့် ကော်မရှင် ခွင့်ပြုမိန့်အမှတ်-၅၁၄/၂၀၁၂ (၁၅-၁၁-၂၀၁၂) ဖြင့် ကြက်၊ ဘဲ အစားအစာ၊ ငါး၊ ပုစွန် အစားအစာနှင့် တိရစ္ဆာန် အစားအစာများ ပြုပြင်ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်းကို မြေကွက်အမှတ် ၃၃ ၊ စက်မှုဇုန်ဧရိယာ၊ တိုက်ကြီး-ပဲခူး အဝေးပြေးလမ်းမ၊ ညောင်အင်းရွာ၊ ပဲခူးမြို့နယ်၊ ပဲခူးတိုင်းဒေသကြီးတွင် နိုင်ငံခြား မတည်ငွေရင်း US$ ၁၀.၀၉ သန်း ဖြင့် ဆောင်ရွက်လျက်ရှိ ပါကြောင်း စိစစ်တွေ့ရှိရပါသည်။

(ခ) ပုဂ္ဂလိကမြေအား နိုင်ငံခြားသားပိုင်ကုမ္ပဏီသို့ ငှားရမ်းဆောင်ရွက်ခွင့်ပြုရန်ကိစ္စ အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၀/၂၀၁၆) ကြိမ်မြောက် အစည်းအဝေး သို့ တင်ပြထားပြီး၊ ပြည်ထောင်စုအစိုးရအဖွဲ့ စီးပွားရေးရာကော်မတီ အစည်းအဝေး သို့ ဆက်လက် တင်ပြထားပါသည်။

(ဂ) ပုဂ္ဂလိကမြေတွင် ငှားရမ်းဆောင်ရွက်ခြင်းအတွက် ပြည်ထောင်စုအစိုးရအဖွဲ့မှ သဘောတူ ခွင့်ပြုပြီးမှသာ ကော်မရှင် ခွင့်ပြုမိန့် ထုတ်ပေးမည်ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၇။ စင်္ကာပူနိုင်ငံ New Hope Singapore Pte.,Ltd မှ ၉၅ %၊ မြန်မာနိုင်ငံ ဒေါ်နန်းယဉ် မှ ၂.၅ %၊ ဦးကော်တောင်(ခ) ဦးသက်နိုင်စိုး မှ ၂.၅ % အစုရှယ်ယာများ ထည့်ဝင်၍ ဖက်စပ်နိုင်ငံခြားရင်းနှီး မြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Myanmar New Hope Agrotechnique Company Limited တည်ထောင်ကာ ပဲခူးတိုင်းဒေသကြီး၊ ပဲခူးမြို့နယ်၊ ဘူးလယ်အင်းကျေးရွာ၊ ကွင်းအမှတ်-(၁၁၇၆/နဂုတ်

ကြီးကွင်း)၊ ဦးပိုင်အမှတ်-(၃၈) ရှိ စုစုပေါင်း ၄၀.၀၂ ဧက၊ (၁၆၁,၈၅၅.၃၃၇၂ စတုရန်းမီတာ) ဧရိယာရှိ မြေပေါ်တွင် ဘုရင့်နောင် ယမ်းစက်ရုံနှင့် ဇွန်းချွ လီမိတက်၏ ကျည်ဆံ၊ ကျည်ဖူးနှင့် ယမ်းမျိုးကြိတ်မွေးမြူ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ အရ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စ အပေါ် သဘောတူ- မတူ။

ဥက္ကဋ္ဌ (ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

Myanmar New Hope Agrotechnique Company Limited ၏
ဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁။ | **Myanmar New Hope Agrotechnique Company Limited** | (a) Ms. Liu Chang<br>Singaporean<br>PP.N0:E-2944181 J<br>Director | 10 Anson Road,# 33-04 A, International Plaza, Singapore(079903) |
| | | (b) Mr. Du, Jiangping<br>Chinese<br>PP.No:E-35225324<br>Director | #376, Jishi Road, JingJiang Industrial Park, Chengdu, Sichuan, P.R.China |
| | | (c) Mr. Li, PingWen<br>Chinese<br>PP.No:E-11794263<br>Director | #376, Jishi Road, JingJiang Industrial Park, Chengdu, Sichuan, P.R.China |
| | | (d) Mr.Gou Huayin<br>Chinese<br>PP.No:G-51175327<br>Director | #376, Jishi Road, JingJiang Industrial Park, Chengdu, Sichuan, P.R.China |
| | | (e) Daw Nan Yin<br>Myanmar<br>12/Ma Ya Ka(N)122520<br>Director | No.(81/82),Ground Floor+First Floor, 50th Street, Ward No.(1), Pazundaung Township, Yangon |
| | | (f) U Kaw Taung @ U Thet Naing Soe<br>Myanmar<br>12/Ma Ya Ka(N)122752<br>Director | No.(56/C), Lan Thit Street, Nant Thar Gone Quarter, Insein Township |

| | | | |
|---|---|---|---|
| ၁။ | ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် | - | ၀၁-၉၀၁၀၂၀၃၊ ၀၉-၅၁၁၃၀၂၇ |
| ၂။ | ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ | - | |
| ၃။ | ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး | - | ဒေါ်သန့်မြတ်ဝင်း |
| ၄။ | ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ | - | မျိုးကြက်မွေးမြူ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း |
| ၅။ | ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ | - | - |
| ၆။ | ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ | - | - |
| ၇။ | ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် | - | - |

**နောက်ဆက်တွဲ-က**




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
ပဲခူးမြို့
စာအမှတ်၊ ၈ / ၁ - ၁၂ / ဦး ၈ ( ၀၄၉ )
ရက် စွဲ၊ ၂၀၁၆ ခုနှစ်၊ ဒီဇင်ဘာလ ၁၄ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊သစ္စာလမ်း၊ရန်ကင်းမြို့နယ်
ရန်ကုန်မြို့

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၈.၁၀.၂၀၁၆) ရက်စွဲပါစာအမှတ်၊ မရက- ၂/ န- ၁၅၅ / ၂၀၁၆ (၇၇၀)

၁။ မြန်မာနိုင်ငံသား ဒေါ်နန်းရင်မှ ၂.၅%၊ ဦးကော်တောင်(ခ)ဦးသက်နိုင်စိုးမှ ၂.၅% နှင့် စင်္ကာပူနိုင်ငံမှ New Hope Singapore Pte. Ltd. မှ ၉၅% အစုရှယ်ယာများ ထည့်ဝင်ကာ မြန်မာနိုင်ငံတွင် Myanmar New Hope Agrotechnique Co.,Ltd. တည်ထောင်၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ပဲခူးတိုင်းဒေသကြီး၊ ပဲခူးမြို့နယ်၊ ဘုရားလယ်အင်းကျေးရွာ၊ ကွင်းအမှတ်(၁၇၆)၊ နဂုတ်ကြီးကွင်း၊ ဦးပိုင်အမှတ်(၃၈)ရှိ စုစုပေါင်းမြေဧရိယာ ၄၀.၀၂၈ဧက (၁၆၁၉၅၅.၃၃၇၂စတုရန်းမီတာ)ကိုငှားရမ်း၍ မျိုးကြက်မွေးမြူ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် Myanmar New Hope Agrotechnique Co.,Ltd.မှ အဆိုပြုတင်ပြလာမှုနှင့်ပတ်သက်၍ သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ **ရည်ညွှန်းပါစာဖြင့်** ညှိနှိုင်းအကြောင်းကြားလာပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထားပြန်ကြားအပ်ပါသည်-

(က) အဆိုပြုမြေနေရာသည် ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့၏ (၁၄.၃.၂၀၁၆) ရက်စွဲပါ စာအမှတ်၊ ၆/ ၃ - ၂ / ဦး ၆ အရ အထွေထွေစက်မှုလုပ်ငန်းမြေအဖြစ် ခွင့်ပြုထားသည့်မြေဖြစ်သောကြောင့် လက်ရှိ (သို့မဟုတ်) နောင်ပြုလုပ်မည့် မြို့ပြစီမံကိန်းကို ထိခိုက်ခြင်းမရှိပါကြောင်း၊

(ခ) အဆိုပြုမြေနေရာအတွင်း လုပ်ငန်းဆောင်ရွက်ခြင်းဖြင့် မြို့နယ်ဒေသ အလုပ်အကိုင်အခွင့်အလမ်းများဖြစ်ပေါ်စေပြီး ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူ ဖြစ်စေနိုင်ပါကြောင်း၊

(ဂ) ဖော်ပြပါမြေနေရာအား စက်ရုံအဖြစ်သုံးစွဲခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်မှုရှိပါကြောင်း၊

2016 HO 17

(ဃ) အဆိုပြုမြေနေရာသည် ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့၏ (၁၄.၃.၂၀၁၆) ရက်စွဲပါ စာအမှတ်၊ ၆/ ၃ - ၂ / ဦး ၆ အရ အထွေထွေစက်မှုလုပ်ငန်းမြေအဖြစ် ခွင့်ပြုထားသည့်မြေဖြစ်သောကြောင့် လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာ ဖြစ်ပါကြောင်း၊

၃။ ထို့ဖြစ်ပါ၍ Myanmar New Hope Agrotechnique Co.,Ltd. မှ ပဲခူးမြို့နယ်၊ ဘုရားလယ်အင်းကျေးရွာ၊ ကွင်းအမှတ်(၁၁၇၆)၊ နဂုတ်ကြီးကွင်း၊ ဦးပိုင်အမှတ်(၃၈)ရှိ စုစုပေါင်း မြေဧရိယာ ၄၀.၀၂ဧက (၁၆၁၉၅၅.၃၃၇၂စတုရန်း မီတာ)ကိုငှားရမ်း၍ မျိုးကြက်မွေးမြူ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန် မရှိပါကြောင်း တင်ပြအပ်ပါသည်။

၁၃.၂.၂၀၁၇

(ဝင်းသိန်း)
ဝန်ကြီးချုပ်

မိတ္တူကို

ဝန်ကြီး၊ စက်မှုလျှပ်စစ်နှင့်လမ်းပန်းဆက်သွယ်ရေးဝန်ကြီးဌာန၊ ပဲခူးတိုင်းဒေသကြီး

Myanmar New Hope Agrotechnique Co.,Ltd.

လက်ခံစာတွဲ

မျှောစာတွဲ

2016 HO 18

ရှိ 3
13/1116

နောက်ဆက်တွဲ- ခ



ncl 347
11/11

NPF.3060
9.11.2016

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## စိုက်ပျိုးရေး၊မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန
## ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ်၊ ၃/ ၃၀၀၀/ မွေးရေကျေး ( ၁၂၄၀/၂၀၁၆)
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ နိုဝင်ဘာလ ၈ ရက်

အကြောင်းအရာ ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၈-၁၀-၂၀၁၆) ရက်စွဲပါစာအမှတ်၊ မရက-၂/န-၁၅၅/၂၀၁၆(၇၆၉)

(၂) မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန၏ (၁-၁၁-၂၀၁၆)ရက်စွဲပါစာအမှတ်၊ ညကခ/သထ/ MIC/ ၂၀၁၆ (၈၅၃)

၁။ မြန်မာနိုင်ငံသား ဒေါ်နန်းရင် မှ ၂.၅%၊ ဦးကျော်တောင် (ခ) ဦးသက်နိုင်စိုးမှ ၂.၅% နှင့် စင်ကာပူနိုင်ငံမှ New Hope Singapore Pte. Ltd မှ ၉၅% အစုရှယ်ယာများထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Myanmar New Hope Agrotechnique Company Limited တည်ထောင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ပဲခူးတိုင်းဒေသကြီး၊ ပဲခူးမြို့နယ်၊ ဘုးလယ်အင်းကျေးရွာ၊ ကွင်းအမှတ် (၁၀၇၆/နဂုတ်ကြီးကွင်း)၊ ဦးပိုင်အမှတ် (၃၈) ရှိ စုစုပေါင်း ၄၀.၀၂ ဧက (၁၆၁,၉၅၅.၃၃၇၂ စတုရန်းမီတာ)ကို ငှားရမ်းကာ မျိုးကြက်မွေးမြူထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြလာခြင်းနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းချက်(၁)ပါစာဖြင့် အကြောင်းကြားထားပါသည်။

၂။ အဆိုပြုချက်ပါလုပ်ငန်းနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ (၃၆/၂၀၁၆) ကြိမ်မြောက် အစည်းအဝေး၏ ဆုံးဖြတ်ချက်များအပေါ် Myanmar New Hope Agrotechnique Company Limited မှ ပြင်ဆင်ပြီး တင်ပြချက်အား စိစစ်တွေ့ရှိချက်မှာ အောက်ပါ အတိုင်းဖြစ်ပါသည်-

(က) Myanmar New Hope Agrotechnique Company Limited သည် ရင်းနှီးမြှုပ်နှံမှု (၆.၁၃) US$ သန်းဖြင့် မတည်ကာ အသားစားမျိုးကြက်မွေးမြူထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား နှစ် (၅၀) စီမံကိန်းချပြီး၊ မျိုးခြံ (Breeder Farm) (၂၂) ခြံ တည်ထောင်၍ (၁၀၀%) ပြည်တွင်းရောင်းချစနစ်ဖြင့် မျိုးဥ (Hatching Eggs)၊ စားသုံးဥ (Table Eggs) နှင့်စီးပွားဖြစ်အသားစားကြက်များ

ထုတ်လုပ်ရောင်းချမည်ဖြစ်ပါကြောင်း၊

(ခ) မျိုးခြံတည်ဆောက်ရေးကာလ(၁)နှစ် ဖော်ပြထားပြီး မျိုးခြံ (၂၂)ခြံ၌ တစ်နှစ်လျှင် မိဘမျိုးရိုးအသားစားကြက်ပေါက် (Broiler Parent Stock Chick) (၂၁၁,၂၀၀) ကောင်အား ပြည်ပမှ မှာယူတင်သွင်း မွေးမြူသွားမည်ဖြစ်ပါကြောင်းနှင့် ပထမနှစ်တွင် မျိုးဥ (၅၅) သိန်း၊ စားသုံးဥ (၅) သိန်းနှင့် ကြက်သား (၈) သောင်း ကီလိုဂရမ် ထုတ်လုပ်မည်ဖြစ်ပါကြောင်း၊ နောက်ပိုင်းနှစ်များတွင်လည်း တိုးချဲ့ထုတ်လုပ်သွားမည်ဖြစ်ပါကြောင်း၊

(ဂ) မျိုးခြံ (၂၂) ခြံ တည်ဆောက်ရန်အတွက် လိုအပ်သော စက်ပစ္စည်းကိရိယာများအား Brand New စက်ပစ္စည်းများအဖြစ် ပြည်ပမှ မှာယူတင်သွင်းမည်ဖြစ်ပါကြောင်း၊

(ဃ) မျိုးမွေးမြူရေးခြံပုံစံ (Breeder Farm Design) နှင့် စက်ပစ္စည်းကိရိယာပုံစံများ ဖော်ပြပါရှိသော်လည်း ခြံ Layout Plan အား နိုင်ငံတကာစံနှုန်းနှင့်ကိုက်ညီပြီး၊ ဒေသအတွင်း လိုက်လျောညီထွေဖြစ်မည့် ကောင်းမွန်သော တိရစ္ဆာန်မွေးမြူရေးကျင့်စဉ် Good Animal Hunbandry Practice (GAHP)နှင့် ကောင်းမွန်သော ထုတ်လုပ်မှုကျင့်စဉ် Good Manufacture Practice (GMP) စံနှုန်းများအတိုင်း တည်ဆောက်သွားရန် လိုအပ်ပါကြောင်း၊

(င) တိရစ္ဆာန်ကူးစက်ရောဂါ၊ ရောဂါကာကွယ်ထိန်းချုပ်ရေးနှင့် ပတ်ဝန်းကျင်ရှိ လူ၊ တိရစ္ဆာန်တို့ကို ရောဂါကူးစက်ပျံ့ပွားမှု၊ ဘေးအန္တရာယ်ကျရောက်မှု မဖြစ်စေရေးတို့အတွက် ဇီဝလုံခြုံမှု (Biosecurity) အစီအမံရေးဆွဲတင်ပြထားပါကြောင်း၊

၃။ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာနမှ သတ်မှတ်ထားသော မွေးမြူရေးလုပ်ငန်းကျင့်စဉ် (GAHP, GMP) များနှင့် ကိုက်ညီစွာလိုက်နာဆောင်ရွက်သွားပါက Myanmar New Hope Agrotechnique Company Limited ၏ မျိုးကြက်မွေးမြူထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းသည် ပြည်တွင်းအစားအစာဖူလုံရေးနှင့် မွေးမြူရေးကဏ္ဍဖွံ့ဖြိုးတိုးတက်ရေးအတွက် အထောက်အကူပြုလုပ်ငန်းဖြစ်ပါသဖြင့် မွေးမြူရေးနှင့်ကုသရေးဦးစီးဌာနအနေဖြင့် Techanical အချက်အလက်နှင့်ပတ်သက်၍ ကန့်ကွက်ရန်မရှိပါကြောင်း ရည်ညွှန်းချက်(၂)ပါစာဖြင့် စိစစ်တင်ပြလာပါသည်။

၄။ သို့ဖြစ်ပါ၍ စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနအနေဖြင့် မွေးမြူရေးနှင့်ကုသရေးဦးစီးဌာနမှ သတ်မှတ်ထားသော မွေးမြူရေးလုပ်ငန်းကျင့်စဉ် (GAHP, GMP) များနှင့် ကိုက်ညီစွာလိုက်နာဆောင်ရွက်သွားပါက Myanmar New Hope Agrotechnique Company Limited ၏ မျိုးကြက်မွေးမြူထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းသည် ပြည်တွင်းအစားအစာ ဖူလုံရေးနှင့် မွေးမြူရေးကဏ္ဍဖွံ့ဖြိုးတိုးတက်ရေးအတွက် အထောက်အကူပြုလုပ်ငန်းဖြစ်ပါသဖြင့် Techanical

အချက်အလက်နှင့်ပတ်သက်၍ ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
ဒေါက်တာခင်ဇော်၊ အမြဲတမ်းအတွင်းဝန်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မိတ္တူ

(၁) ညွှန်ကြားရေးမှူးချုပ်၊ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန

(၂) Myanmar New Hope Agrotechnique Company Limited

(၃) ရုံးလက်ခံ

(၄) မျှော

2





ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန
မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်ရုံး

စာအမှတ်၊ ညကခ/သထ/MIC/၂၀၁၆ (၈၅၃)
ရက်စွဲ၊ ၂၀၁၆ ခုနှစ် နိုဝင်ဘာလ ၂ ရက်

အကြောင်းအရာ။ သဘောထားမှတ်ချက်အားတင်ပြခြင်း
ရည်ညွှန်းချက်။ စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ ပြည်ထောင်စုဝန်ကြီးရုံး၏ (၂၅-၁၀-၂၀၁၆) ရက်စွဲပါ စာအမှတ်၊ ၃/၃၀၀၀/ မွေးရေကျေး(၁၁၈၄/၂၀၁၆)

၁။ မြန်မာနိုင်ငံသား ဒေါ်နန်းရင်မှ ၂.၅%၊ ဦးကျော်တောင်(ခ) ဦးသက်နိုင်စိုးမှ ၂.၅% နှင့် စင်္ကာပူနိုင်ငံ New Hope Singapore Pte.Ltd မှ ၉၅% အစုရှယ်ယာများထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Myanmar New Hope Agrotechnique Company Limited တည်ထောင်ကာ ပဲခူးတိုင်းဒေသကြီး၊ ပဲခူးမြို့နယ်၊ ဘုးလယ်အင်းကျေးရွာ၊ ကွင်းအမှတ်(၁၁၇၆/ နဂုတ်ကြီးကွင်း)၊ ဦးပိုင်အမှတ်(၃၈)ရှိ စုစုပေါင်း (၄၀.၀၂)ဧက (၁၆၁,၉၅၅.၃၃၇၂စတုရန်းမီတာ) ကိုငှားရမ်းကာ မျိုးကြက်မွေးမြူထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြလာခြင်းနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက်ပြန်ကြားနိုင်ရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာမှုအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ (၃၆/၂၀၁၆) ကြိမ်မြောက်အစည်းအဝေး၏ ဆုံးဖြတ်ချက်များအပေါ် ပြင်ဆင်ပြီးပြန်လည်ပေးပို့လာခြင်းအား စိစစ်တွေ့ရှိချက်မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) Myanmar New Hope Agrotechnique Company Limited သည် ရင်းနှီးမြှုပ်နှံမှု (၆.၁၃) US$ သန်းဖြင့် မတည်ကာ အသားစားမျိုးကြက်မွေးမြူထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား နှစ် (၅၀) စီမံကိန်းချပြီး၊ မျိုးခြံ (Breeder Farm) (၂၂) ခြံ တည်ထောင်၍ (၁၀၀ %) ပြည်တွင်းရောင်းချစနစ်ဖြင့် မျိုးဥ (Hatching Eggs)၊ စားသုံးဥ(Table Eggs) နှင့် စီးပွားဖြစ်အသားစားကြက်များထုတ်လုပ်ရောင်းချမည်ဖြစ်ပါကြောင်း၊

(ခ) မျိုးခြံတည်ဆောက်ရေးကာလ (၁) နှစ် ဖော်ပြထားပြီး မျိုးခြံ (၂၂) ခြံ၌ တစ်နှစ်လျှင် မိဘမျိုးရိုးအသားစားကြက်ပေါက် (Broiler Parent Stock Chick) (၂၁၁,၂၀၀) ကောင်အား ပြည်ပမှ မှာယူတင်သွင်း မွေးမြူသွားမည်ဖြစ်ပါကြောင်းနှင့် ပထမနှစ်တွင် မျိုးဥ (၅၅) သိန်း၊ စားသုံးဥ (၅) သိန်းနှင့် ကြက်သား (၈) သောင်း ကီလို

ဂရမ် ထုတ်လုပ်မည်ဖြစ်ပါကြောင်း၊ နောက်ပိုင်းနှစ်များတွင်လည်း တိုးချဲ့ထုတ်လုပ်သွားမည်ဖြစ်ပါကြောင်း၊

(ဂ) မျိုးခြံ (၂၂) ခြံ တည်ဆောက်ရန်အတွက် လိုအပ်သော စက်ပစ္စည်းကိရိယာများအား Brand New စက်ပစ္စည်းများအဖြစ် ပြည်ပမှ မှာယူတင်သွင်းမည်ဖြစ်ပါကြောင်း၊

(ဃ) မျိုးမွေးမြူရေးခြံပုံစံ (Breeder Farm Desgin) နှင့် စက်ပစ္စည်းကိရိယာပုံစံများဖော်ပြပါရှိသော်လည်း ခြံ Layout Plan အား နိုင်ငံတကာစံနှုန်းနှင့်ကိုက်ညီပြီး၊ ဒေသအတွင်းလိုက်လျောညီထွေဖြစ်မည့် ကောင်းမွန်သောတိရစ္ဆာန်မွေးမြူရေးကျင့်စဉ် Good Animal Hunbandry Practice (GAHP) နှင့် ကောင်းမွန်သောထုတ်လုပ်မှုကျင့်စဉ် Good Manufacture Practice (GMP) စံနှုန်းများအတိုင်းတည်ဆောက်သွားရန်လိုအပ်ပါကြောင်း၊

(င) တိရစ္ဆာန်ကူးစက်ရောဂါ၊ ရောဂါကာကွယ်ထိန်းချုပ်ရေးနှင့် ပတ်ဝန်းကျင်ရှိ လူ၊ တိရစ္ဆာန်တို့ကို ရောဂါကူးစက်ပျံ့ပွားမှု၊ ဘေးအန္တရာယ်ကျရောက်မှု မဖြစ်စေရေးတို့အတွက် ဇီဝလုံခြုံမှု (Biosecurity) အစီအမံရေးဆွဲတင်ပြထားပါကြောင်း၊

၂။ သို့ဖြစ်ပါ၍ ဌာနမှသတ်မှတ်ထားသော မွေးမြူရေးလုပ်ငန်းကျင့်စဉ် (GAHP, GMP) များနှင့် ကိုက်ညီစွာလိုက်နာဆောင်ရွက်သွားပါက Myanmar New Hope Agrotechnique Company Limited ၏ မျိုးကြက်မွေးမြူထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းသည် ပြည်တွင်းအစားအစာဖူလုံရေးနှင့် မွေးမြူရေးကဏ္ဍဖွံ့ဖြိုးတိုးတက်ရေးအတွက် အထောက်အကူပြုလုပ်ငန်းဖြစ်ပါသဖြင့် မွေးမြူရေးနှင့်ကုသရေးဦးစီးဌာနအနေဖြင့် Techanical အချက်အလက်နှင့်ပတ်သက်၍ ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားခွင့်ပြုပါရန် တင်ပြလမ်းညွှန်မှုခံယူအပ်ပါသည်။

ဒေါက်တာရဲထွန်းဝင်း
ညွှန်ကြားရေးမှူးချုပ်

**ပြည်ထောင်စုဝန်ကြီးရုံး**
စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန
မိတ္တူကို-
လက်ခံစာတွဲ




ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊၀၀၁/ MIC(OSS) /၀၁( ၂၃၆ / ၁၆ )
ရက်စွဲ၊ ၂၀၁၆ ခုနှစ် နိုဝင်ဘာလ ၁၁ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Myanmar New Hope Agrotechnique Company Limited မှ မျိုးကြက်မွေးမြူထုတ်လုပ် ရောင်းချခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ သဘောထား မှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၈-၁၁-၂၀၁၆ ရက်စွဲပါ စာအမှတ်၊ မရက- ၂ / မ- ၁၅၅ / ၂၀၁၆(၇၇၁)

၁။ မြန်မာနိုင်ငံသားဒေါ်နန်းရင်မှ ၂.၅%၊ ဦးကော်တောင်(ခ)ဦးသက်နိုင်စိုးမှ ၂.၅%နှင့် စင်္ကာပူနိုင်ငံမှ New Hope Singapore Ltd မှ ၉၅% အစုရှယ်ယာများထည့်ဝင်ကာ ဖက်စက်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Myanmar New Hope Agrotechnique Company Limited တည်ထောင်ကာဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ပဲခူးတိုင်းဒေသကြီး၊ ပဲခူးမြို့နယ် ဘူးလယ်အင်းကျေးရွာ၊ ကွင်းအမှတ်(၁၁၇၆/နဂတ်ကြီးကွင်း)၊ ဦးပိုင်အမှတ်(၃၈)ရှိ စုစုပေါင်း ၄၀.၀၂ဧက( ၁၆၁၉၅၅.၃၃၇၂ စတုရန်းမီတာ )ကိုငှားရမ်းကာ မျိုးကြက်မွေးမြူထုတ်လုပ် ရောင်းချခြင်းလုပ်ငန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့် ပတ်သက်၍ စီစစ်ပြီး သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ ပူးတွဲပေးပို့လာသော အဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာကနဦးနှစ်(၃၀)နှင့်(၁၀) နှစ်သက်တမ်းတိုး(၂)ကြိမ်ဖြစ်ကြောင်း၊ တည်ဆောက်ရေးကာလမှာ(၁)နှစ် ဖြစ်ကြောင်း၊ ကြက်သားပေါက်ထုတ်လုပ်ရန်အတွက် ကြက်ခြံ (၂၂) ခြံတည်ဆောက်ပြီး ကြက်ခြံတစ်ခြံလျှင် မျိုးကြက်ဖကြီး(၁၆၀၀)၊ မျိုးကြက်မကြီး(၈၀၀၀)ကောင်၊ မျိုးကြက်(၉၆၀၀)ကောင်၊ စုစုပေါင်း ကြက်ကောင်ရေ(၂၁၁၂၀၀)ကောင်မွေးမြူ၍ ကြက်ဥရရှိရေး ဆောင်ရွက်သွားမည်ဖြစ်ပါသည်။ ပထမနှစ်တွင် ကြက်သားပေါက်ကောင်ရေ ( ၈၀၀၀၀ ) မှ နှစ်( ၃၀ )အတွင်း ကြက်သားပေါက်

ကောင်ရေ( ၁၈၀၁၈၁၄ ) အထိ တိုးမြှင့်ထုတ်လုပ်သွားမည်ဖြစ်ကြောင်း၊ ဝန်ထမ်းများသက်သာချောင်ချိရေးအစီအစဉ်များ၊ မီးဘေးကြိုတင်ကာကွယ်ရေးအစီအမံများကိုလည်း ထားရှိဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ ၏(၂%) ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု( Corporate Social Responsibility-CSR ) လုပ်ငန်းများတွင်ထည့်ဝင်အသုံးပြုသွားမည်ဖြစ်ကြောင်းဖော်ပြပါရှိပါသည်။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်ပတ်သက်၍ လုပ်ငန်းအဆင့်တိုင်းတွင် ပတ်ဝန်းကျင်ထိခိုက်ပျက်စီးမှုအနည်းဆုံးဖြစ်စေရန် အပြည့်အဝကာကွယ်ဆောင်ရွက်သွားမည်ဖြစ်ပြီး လေကောင်းလေသန့်ရရှိရေး၊ ပတ်ဝန်းကျင်စိမ်းလန်းစိုပြေရေးနှင့် ရေဆိုးစွန့်ပစ်စနစ်များ ဆောင်ရွက်သွားမည်ဖြစ်ကြောင်းဖော်ပြပါရှိပါသည်။

၃။ Myanmar New Hope Agrotechnique Company Limited မှ မျိုးကြက်မွေးမြူထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းများဆောင်ရွက်ရာတွင် ထွက်ရှိလာမည့်ကြက်ဥကွဲများ၊ ကြက်ဥပုပ်များအား စနစ်တကျမစွန့်ပစ်ပါက ပတ်ဝန်းကျင်မြေထုနှင့်လေထုညစ်ညမ်းခြင်း၊ ကြက်ခြံအတွင်းနှင့်ခြံပတ်ဝန်းကျင်များကို ပိုးသတ်ဆေးဖြန်းခြင်းလုပ်ငန်းများမှ ထွက်ရှိလာမည့် စွန့်ပစ်ရေဆိုးများနှင့် toxic compound များကြောင့် ပတ်ဝန်းကျင်မြေထုနှင့်ရေထုညစ်ညမ်းခြင်းနှင့်လုပ်သားများ၏ ကျန်းမာရေးကိုထိခိုက်စေခြင်း၊ ကြက်ဥများအားဖေါက်စက်သို့ မပို့မီ အအေးခန်းများတွင်ထားရှိထိန်းသိမ်းခြင်းကြောင့် Cold store များမှထွက်ရှိလာမည့် Green House Gas - GHG များကြောင့် ပတ်ဝန်းကျင်လေထု အပေါ်သက်ရောက်မှုရှိစေခြင်း၊ မျိုးကြက်မွေးမြူထားစဉ်ကာလတွင်လည်း ကြက်ခြံအတွင်းမှထွက်ရှိလာမည့် ကြက်ချေးများ၊ အစာကြွင်းအစာကျန် ဆေးကြောသည့်နေရာများညစ်ညမ်းခြင်း၊ အစာသိုလှောင်သည့်နေရာနှင့် ကြက်မွေးမြူထားသည့် ပတ်ဝန်းကျင်နေရာများမှ ဆက်စပ်အနံ့ဆိုးများ ပျံ့နှံ့ရောက်ရှိခြင်း စသည့်ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုပြဿနာများ ဖြစ်ပေါ်စေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Myanmar New Hope Agrotechnique Company Limited မှ မျိုးကြက်မွေးမြူထုတ်လုပ် ရောင်းချခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ အောက်ပါအတိုင်းသဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်-

(က) အဆိုပြု လုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်

ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကိုပြည့်စုံစွာဖော်ပြပြီးလုပ်ငန်းဆောင်ရွက်ရာတွင်ပတ်ဝန်းကျင် ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးဆိုင်ရာအကျိုးပြုလုပ်ငန်းများတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR)အတွက် အသားတင်အမြတ်ငွေ၏ (၂%)အားအသုံးပြုခြင်းအပါအဝင်ကတိကဝတ်များအားလိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေးမထိခိုက်စေရေး(သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးတို့အတွက် **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment)** ကိုဆောင်ရွက်ပြီး ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ အစီရင်ခံစာရေးဆွဲတင်ပြရန်။

(ဂ) အထက်ပါလေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေး ထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း / စွန့်ပစ်အရည် စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် ( Environmental Management Plan – EMP )**အား ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာအရည်အသွေး( ထုတ်လွှတ်မှု ) လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်။

(င) သက်ဆိုင်ရာတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူများ၏ဆန္ဒနှင့်သဘောထားများ ရယူဆောင်ရွက်ရန်။

ခင်သီတာတင်
၁၁/၁၁/၂၀၁၄

(ခင်သီတာတင်)

ညွှန်ကြားရေးမှူး

ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ရန်ကုန်တိုင်းဒေသကြီး

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး

သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး

ရုံးလက်ခံ